## ပြည်ထောင်စုမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ) /မ-လမ်း၊ ...
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာ လ ...

### ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
### အမှာစာ

အကြောင်းအရာ။ ။ တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင် လမ်းအပိုင်းနှင့် ပြည်-တောင်ကုတ် လမ်းအပိုင်း (နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီ လီမိတက်)တို့ အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြလာခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင် လမ်းအပိုင်း | (၅၆)မိုင် (၇)ဖာလုံ | US$ ၅.၃၈ သန်း အပါအဝင် ကျပ် ၈၈၀၅.၆၈ သန်း | နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီ လီမိတက် |
| ၂။ | ပြည်-တောင်ကုတ် လမ်း အပိုင်း | (၁၀၂)မိုင် | US$ ၉.၃၃ သန်း အပါအဝင် ကျပ် ၂၀၇၀၀.၆၅ သန်း | နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီ လီမိတက် |

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ (၈-၁၂-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၃၈/ ၂၀၁၀) အစည်းအဝေးမှ B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာခြင်းဖြစ်ပါသည်။ နောက်ဆက်တွဲ(က)

၃။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှတည်ဆောက် ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီ များသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပါသည်။ လမ်းအပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု နှင့် အသုံးပြုခကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ တံတားအသုံးပြုခ ကောက်ခံ နှုန်းကို နောက်ဆက်တွဲ(ခ) ဖြင့် တင်ပြအပ်ပါသည်။

**အဆိုပြုလမ်းအပိုင်းများပေါ်ရှိ (၁၈၀)ပေ အထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု**

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | မှတ်ချက် |
|---|---|---|---|
| ၁။ | တောင်ကုတ်- သံတွဲ- ငပလီ - လုံးသာ- မဇင်လမ်း အပိုင်း (၅၆)မိုင်(၇) ဖာလုံ (နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်) | - တံတားအမှတ် ၂/၄၅ ဒွါရဝတီမြို့ဦးတံတား ၅၄၀' | - လေလံနှုန်းဖြင့် ကောက်ခံမည်ဖြစ်ပါသည်။ |
| | | - တံတားအမှတ် ၇/၂၉ ရွှေလှေတံတား ၆၀၀' | - လေလံနှုန်းဖြင့် ကောက်ခံမည်ဖြစ်ပါသည်။ |
| | | - တံတားအမှတ် ၃/၄၂ ပြည့်ချောင်းတံတား ၄၄၀' | - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |
| | | - တံတားအမှတ် ၅/၃၇ ဇင်ချောင်းတံတား ၁၈၀' | - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |
| ၂။ | ပြည်-တောင်ကုတ် လမ်းအပိုင်း (၁၀၂)မိုင် (နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်) | -နဝဒေးတံတား ၄၁၈၃' | - စီမံကိန်းဝင်နှုန်းဖြင့် ကောက်ခံမည် ဖြစ်ပါသည်။ |
| | | -တံတားအမှတ် ၁/၂၀ ၂၀၀' | - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |
| | | -တံတားအမှတ် ၄/၂၄ ၃၄၀' | - တံတားအသုံးပြုခ ကောက်ခံခြင်း မပြုပါ။ |

၄။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ်(မူကြမ်း)များပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက် သဘောတူပါက တစ်ကြိမ် လျှင် (၅)နှစ် စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို လမ်း ဖောက်လုပ်သည့်လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ်အနက် စောရာ နေ့ရက် ကာလ မှ စတင်သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံ မည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း(ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက် တန်ပို(၁)တန်လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁) ပထမ (၃)နှစ်အတွက် ------- ကင်းလွတ်ခွင့်ကာလ

(၂) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ(၁၀)နှစ် -------- ၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် -------- ၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ (၇)နှစ် -------- ၂၀% ပေးသွင်းရန်

(၆) (၄၀)နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန်ဖြစ်ပါသည်။

(င) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိ ပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိ ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော် လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံ ငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူ ရ မည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေ ကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရပါမည်။

(စ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရပါ။

(ဆ) လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်ပါသည်။

(ဇ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များနှင့် အဆောက် အဦ များကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။

၅။ လမ်းအပိုင်းအလိုက် လမ်း ဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက် ခွင့်ပြုသည့် နေ့ရက် များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့် နေ့ |
|---|---|---|---|
| ၁။ | နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် | တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင်လမ်းအပိုင်း | ၄-၅-၂၀၁၀ |
| ၂။ | နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် | ပြည်- တောင်ကုတ် လမ်းအပိုင်း | ၁၃-၂-၂၀၁၀ |

၆။ အဆိုပြု လမ်းအပိုင်း(၂)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ အသုံးပြုခ ကောက်ခံခြင်း နှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက် အလက်များကို နောက်ဆက်တွဲ (က)မှ (ဃ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (င) မှ (စ)အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၇။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၈။ အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင် လမ်းအပိုင်း | (၅၆) မိုင် (၇)ဖာလုံ | နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် |
| (ခ) | ပြည်-တောင်ကုတ် လမ်း အပိုင်း | (၁၀၂ မိုင်) | နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်။

၉။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

နောက်ဆက်တွဲ (က)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ(၈)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၈/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၅-ဂ | ၆၇၁ | (က) အောက်ဖော်ပြပါ လမ်းအပိုင်း (၃)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက် လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။<br>(က) တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင် လမ်းအပိုင်း (၁၁၀ မိုင် ၂ ဖာလုံ) နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်<br>(ခ) ပြည်- တောင်ကုတ် လမ်းအပိုင်း (၁၀၀မိုင်) နေလသစ္စာ ဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်<br>(ဂ) မိတ္ထီလာ- မလှိုင်- တောင်သာ- မြင်းခြံ လမ်းအပိုင်း (၅၅ မိုင် ၁ ဖာလုံ) ထွန်းညီလူ ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊<br>ဆောက်လုပ်ရေးဝန်ကြီးဌာန။ |

နောက်ဆက်တွဲ(ခ)

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၁၀ | ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသည်တင်ယာဉ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသည်တင်ယာဉ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသည်တင်ယာဉ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဉ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ | ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | | |
|---|---|---|---|
| (က) | စက်ဘီး | ၅ | ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၁၀ | ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၇၅ | ကျပ် |
| (င) | ဟိုင်းလတ်ခရီးသည်တင်ယာဉ် | ၂၀၀ | ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၂၅၀ | ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဉ် | ၄၅၀ | ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီး | ၇၀၀ | ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဉ်ကြီး | ၁၀၀၀ | ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဉ်) ၂၀ တန်ထက်ကျော်သော ယာဉ်များအတွက် တန်ပိုကြေး အဖြစ် (၁)တန်လျှင် ၃၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဉ် ၂၀၀ ကျပ်နှုန်း

နောက်ဆက်တွဲ (ဂ)

**တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင်လမ်းအပိုင်း၊ (နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊၁၁၈ဝ/ ၂ဝဝ၉ - ၂ဝ၁ဝ (၁၆-၁၁-၂ဝဝ၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်တောင်(ခ)ဦးဉာဏ်ထွန်း(အုပ်ချုပ်မှုဒါရိုက်တာ) (အဘ-ဦးသာထင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ - မဇင်လမ်းအပိုင်း အား B.O.T စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - တောင်ကုတ် - သံတွဲ - ငပလီ - လုံးသာ- မဇင် လမ်းအပိုင်း — ၅၆ မိုင် ၇ ဖာလုံ<br>တောင်ကုတ်- သံတွဲ — ၄၄ မိုင် ၃ ဖာလုံ<br>သံတွဲ- ငပလီ- လုံးသာ — ၁ဝ မိုင် ၃ ဖာလုံ<br>ငပလီ- မဇင် — ၂ မိုင် ၁ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၈ဝ၅.၆၈ သန်း (US$ ၅.၃၈ သန်း အပါအဝင်) |
| | - ငွေပမာဏ | ၃၅၃.၄၂ |
| | - စက်ပစ္စည်းကိရိယာများ | ၁ဝ.ဝ၃ (US$ ၁.၆၇ သန်း) |
| | - ကုန်ကြမ်းပစ္စည်းများ | ၂၂.၂၇ (US$ ၃.၇၁ သန်း) |
| | - လမ်းဖောက်လုပ်ရေးစရိတ် အပါအဝင် | ၇၉၃၁.၄၆ |
| | - ရေပြွန်ဆောက်လုပ် ကုန်ကျစရိတ် | ၁၃၈.ဝဝ |
| | - တံတားတည်ဆောက်ကုန်ကျ စရိတ် | ၃၁ဝ.၅ဝ |
| | - အဆောက်အဦ | ၄ဝ.ဝဝ |
| ၆။ | စက်ပစ္စည်းဝယ်ယူမှုနှင့် ငွေကြေး အထောက်အထား | - စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ ဝယ်ယူ မည် ဖြစ်ပါသည်။ ငွေကြေး အထောက်အထား အဖြစ် |

| | | |
|---|---|---|
| | | နေလသစ္စာ ဆောက်လုပ်ရေးအုပ်စု ကုမ္ပဏီ လီမိတက် အမည်ဖြင့် မြန်မာ့စီးပွားရေးဘဏ်ရှိ (၈-၇-၂၀၁၀)နေ့ရှိ ငွေလက်ကျန် ကျပ်(၂၀၀.၀၀)သန်းနှင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်ရှိ (၂၀-၁၀-၂၀၁၀)နေ့ရှိ ငွေလက်ကျန် US $ (၀.၂၀)သန်း တင်ပြထားပါသည်။ |
| ၇။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - တောင်ကုတ်(ရွှေညောင်ညိုဂိတ်) (၁)ဂိတ်<br>(အသွားခရီးအတွက်)<br>- မြို့ပြင်ဂိတ် (၁)ဂိတ်<br>(အပြန်ခရီးအတွက်)<br>- နန်းချောင်းဂိတ် (၁)ဂိတ်<br>(အပြန်ခရီးအတွက်) |
| ၈။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ် မြောက် ဝင်ငွေအား ကောက် နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၃၆၇.၇၉ သန်း |
| ၉။ | အသားတင်အမြတ်<br>(၇နှစ်မြောက်) | ကျပ် ၃၂.၆၇ သန်း |
| ၁၀။ | အရင်းကြေကာလ | (၃၂) နှစ် နှင့် (၅)လ |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | ၁.၁၄ % |
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၁၄.၀၀ သန်း<br>ကျပ် ၁၈.၃၉ သန်း |
| ၁၃။ | လုပ်သားအင်အား<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်မှုကာလ | <br>- ၂၈၉ ဦး<br>- ၁၆၉ ဦး |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

နောက်ဆက်တွဲ (ဃ)

**ပြည်- တောင်ကုတ် လမ်းအပိုင်း၊ (နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - နေလသစ္စာဆောက်လုပ်ရေး အုပ်စု ကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၁၈၀/ ၂၀၀၉ - ၂၀၁၀ (၁၆-၁၁-၂၀၀၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်တောင်(ခ)ဦးဉာဏ်ထွန်း(အုပ်ချုပ်မှုဒါရိုက်တာ) (အဘ-ဦးသာထင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပြည်- တောင်ကုတ် လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - ပြည်- တောင်ကုတ် လမ်းအပိုင်း ၁၀၂ မိုင် ဝ ဖာလုံ<br>ပြည်- နဝဒေး ချဉ်းကပ်လမ်း ၁ မိုင် ၇ ဖာလုံ<br>နဝဒေး- ၉၂ တပ်လမ်းဆုံ ၁၂ မိုင် ၁ ဖာလုံ<br>လမ်းဆုံ- တောင်ကုတ် ၈၈ မိုင် ဝ ဖာလုံ<br>(၁၄/၂- ၁၀၂/၂)အထိ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၀၇၀၀.၆၅ သန်း (US$ ၉.၃၃သန်း အပါအဝင်) |
| | - ငွေပမာဏ | ၃၇၆၂.၀၀ |
| | - စက်ပစ္စည်းကိရိယာများ | ၁၄.၁၉ (US$ ၂.၃၆ သန်း) |
| | - ကုန်ကြမ်းပစ္စည်းများ | ၄၁.၈၀ (US$ ၆.၉၇ သန်း) |
| | - လမ်းဖောက်လုပ်ရေးစရိတ် အပါအဝင် | ၁၅၇၆၇.၆၆ |
| | - ရေမြောင်းဆောက်လုပ် ကုန်ကျစရိတ် | ၅၇၅.၀၀ |
| | - ကနဦး လမ်းထိန်းသိမ်းခြင်း ကုန်ကျစရိတ် | ၅၁၀.၀၀ |
| | - အဆောက်အဦ | ၃၀.၀၀ |

| | | |
|---|---|---|
| ၆။ | စက်ပစ္စည်းဝယ်ယူမှုနှင့် ငွေကြေး အထောက်အထား | - စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။ ငွေကြေး အထောက်အထား အဖြစ် နေလသစ္စာ ဆောက်လုပ်ရေးအုပ်စု ကုမ္ပဏီ လီမိတက် အမည်ဖြင့် မြန်မာ့စီးပွားရေးဘဏ်ရှိ (၈-၇-၂၀၁၀)နေ့ ရှိ ငွေလက်ကျန် ကျပ်(၂၀၀.၀၀)သန်းနှင့် မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်ရှိ (၂၀-၁၀-၂၀၁၀)နေ့ရှိ ငွေလက်ကျန် US $ (၀.၂၀)သန်း တင်ပြထားပါသည်။ |
| ၇။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - နဝဒေး ဂိတ် (အသွားခရီးအတွက်)<br>- တောင်ကုတ် ဂိတ် (အပြန်ခရီးအတွက်)<br>- ဥသျှစ်ပင်ဂိတ် (အသွား/အပြန် ခရီးအတွက်) |
| ၈။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၂၀၇၅.၀၃ သန်း |
| ၉။ | အသားတင်အမြတ်<br>(၇နှစ်မြောက်) | ကျပ် ၁၅၈.၆၀ သန်း |
| ၁၀။ | အရင်းကြေကာလ | (၂၂) နှစ် နှင့် (၁၁ )လ |
| ၁၁။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၅၁ % |
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br>ကျပ် ၆၇.၉၇ သန်း<br>ကျပ် ၁၀၃.၇၅ သန်း |
| ၁၃။ | လုပ်သားအင်အား<br>- တည်ဆောက်ရေးကာလ<br>- လုပ်ငန်းဆောင်ရွက်မှုကာလ | <br>- ၉၂၂ဦး<br>- ၄၈၇ ဦး |
| ၁၄။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

M-2147
28/12

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၀(ကုမ္ပဏီ)(စီ ၉၆၄၀)
ရက်  စွဲ၊ ၂၀၁၀ ခုနှစ်  ဒီဇင်ဘာလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့်ဆောင်ရွက်နေသော လမ်းပိုင်း၏ အဆိုပြုလွှာအား အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြပေးနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဒီဇင်ဘာလ (၂၃) ရက်နေ့စွဲပါစာအမှတ်၊ ရက-၆(က) / မ-၁၁၀၄၊မ-၁၁၀၅၊မ-၁၁၀၇/ ၂၀၁၀ (၂၀၄၃၀)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများအနက် နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ပြည် - တောင်ကုတ် လမ်းအပိုင်း၏ အဆိုပြုလွှာ နှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှတဆင့် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး အမှတ်စဉ် (၃၈/၂၀၁၀)သို့ တင်ပြခဲ့ရာ အဆိုပါအစည်းအဝေးမှ အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြ လမ်းညွှန်မှုခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏ အဆိုပြုလွှာအား အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြ အတည်ပြုချက်ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော ပြည် - တောင်ကုတ် လမ်းအပိုင်း၏ အဆိုပြုလွှာ (၁၃) စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁) ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ် ပါသည် ။

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး

နောက်ဆက်တွဲ ( )

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုသူ၏ဆောင်ရွက်ရန်

## အဆိုပြုချက်

နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်
၏

ပြည် - တောင်ကုတ် လမ်း
အဆင့်မြှင့်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈≈

**PROPOSAL OF THE INVESTOR TO MAKE**

**MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

**NAY LA THITSAR CONSTRUCTION GROUP COMPANY LIMITED**

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၀ (ကုမ္ပဏီ)(စီ ၉၀၂၃)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့်ဆောင်ရွက်နေသော ပြည် - တောင်ကုတ် လမ်းပိုင်း၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေးသို့ တင်ပြပေးနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ခုနှစ် နိုဝင်ဘာလ(၂၉)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က) / မ- ၁၁၀၄၊မ-၁၁၀၅၊မ-၁၁၀၇/၂၀၁၀ (၁၉၁၇၀)

၁။ နေလသစ္စာဆောက်လုပ်ရေးအုပ်စု ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ပြည် - တောင်ကုတ် လမ်းပိုင်း၏ အဆိုပြုလွှာနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေး အမှတ်စဉ် (၃၇/၂၀၁၀)မှ B.O.T စနစ်ဖြင့် လမ်း အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာအား ကော်မရှင်၏ ဆုံးဖြတ်ချက်အတိုင်း ပြင်ဆင်ဆောင်ရွက်ပြီးပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှုခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ အဆိုပါလမ်းပိုင်း၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော အဆိုပြုလွှာ (၂၅) စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်း ထားသော CD Copy (၁)ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအပ်ပါသည် ။

30-11-10

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

စာအမှတ် ။ ။ NLTS /၀၀၇ / ၁၁ / ၂၀၁၀
နေ့စွဲ။ ။၂၀၁၀ ခုနှစ်၊ နိုဝင်ဘာလ၊( ၉ )ရက်

NAY LA THITSAR CONSTRUCTION GROUP CO., LTD.
No..........
Date..........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)နေပြည်တော်။

အကြောင်းအရာ။ ။ BOT စနစ်ဖြင့် တောင်ကုတ်-သံတွဲ-ငပလီ-လုံးသာ-မဇင်လမ်း အဆင့်မြှင့်တိုးချဲ့တည်ဆောက်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်းအပေါ်လိုအပ်ချက်များ ပြင်ဆင်ပြီးဖြစ်ပါ၍ ပြန်လည်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁.၁၁.၂၀၁၀)နေ့ ခေါ်ယူညှိနှိုင်းချက်

ရည်ညွှန်းပါအရ ကျွန်တော်တို့၏ Nay La Thitsar Construction Group Company Limited သည်အဆိုပြုချက်အပေါ်ကနဦးစိစစ်တွေ့ရှိချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ညွှန်ကြားချက်ပေးသည့်အတိုင်း ပြင်ဆင်ပြီးဖြစ်ပါသောကြောင့် ပြင်ဆင်ချက်များအား နောက်ဆက်တွဲအနေဖြင့် ပြန်လည်ပေးပို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO., LTD

မိတ္တူကို-

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- အထွေထွေမန်နေဂျာ၊ ခွန်-သိန်း / ကျောက်ထုတ်ဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- ဒုအင်ဂျင်နီယာချုပ် (လမ်း)၊ လမ်းဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- ရုံးလက်ခံ။

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868
e-mail:naylats@mptmail.com.mm

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

စာအမှတ် ။ ။ NLTS /၀၀၈ / ၁၁ / ၂၀၁၀
နေ့စွဲ ။ ။၂၀၁၀ခုနှစ်၊ နိုဝင်ဘာလ၊(၉ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)နေပြည်တော်။

NAY LA THITSAR CONSTRUCTION GROUP CO.,LTD.
Date..........

အကြောင်းအရာ။ ။စက်ပစ္စည်းများအားပြည်ပမှဝယ်ယူမည့်အစီအစဉ်ရှင်းလင်းတင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ Nay La Thitsar Construction Group Company Limited သည် BOT စနစ်ဖြင့် ပြည်-တောင်ကုတ် လမ်းအဆင့်မြှင့်တိုးချဲ့တည်ဆောက်၍ လမ်းအသုံး ပြုခကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုရန်အတွက် ပြည်ပမှတင်သွင်းရန် လိုအပ်သည့် စက်ပစ္စည်း၊ယန္တရားများနှင့် ကုန်ကြမ်းများအား တရုတ်နိုင်ငံ၊ ဂျပန်နိုင်ငံ ၊ထိုင်းနိုင်ငံ၊ စင်္ကာပူနိုင်ငံ နှင့် မလေးရှားနိုင်ငံ များမှဝယ်ယူတင်သွင်းသွားပါမည်။ ပြည်ပမှဝယ်ယူရာတွင်တစ်ကြိမ် တစ်ခါတည်းစနစ်ဖြင့် ဝယ်ယူခြင်းမပြုဘဲ ကနဦးရင်းနှီးမြှုပ်နှံသည့် အချိန်မှစ၍အလီလီဝယ်ယူ တင်သွင်း သွားပါမည်ဟု တင်ပြအစီရင်ခံအပ်ပါသည်။

လေးစားစွာဖြင့်

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO.,LTD.

MAIN OFFICE
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868
e-mail:naylats@mptmail.com.mm

BRANCH OFFICE
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁ / ခွဲ-၂ / ထွေ / ၂၀၁၀ (ကုမ္ပဏီ)(စီ ၇၆၇၅)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် အောက်တိုဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နေလသစ္စာ ဆောက်လုပ်ရေးအုပ်စု ကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် ဆောင်ရွက်နေသော လမ်းပိုင်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ပြည် - တောင်ကုတ် လမ်းပိုင်း (၁၀၂) မိုင်၏ အဆိုပြုလွှာ နှင့် ပဋိညာဉ်စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်မှုနှင့်အညီ ပြင်ဆင်စေခဲ့ရာ ၎င်းကုမ္ပဏီမှ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ပြင်ဆင်ဖြည့်စွက် ပေးပို့လာပါသည် ။

၂။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်ချက်နှင့်အညီပြုစုထားသော အဆိုပါ လမ်းပိုင်း၏ အဆိုပြုလွှာအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ လိုအပ်သလို ဆက်လက်ဆောင်ရွက် ပေးနိုင်ပါရန် နေလသစ္စာဆောက်လုပ်ရေးအုပ်စု ကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ (၁) စုံ ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင်တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း ၊ ရုံးအဖွဲ့မှူး

( ၃၀–၁–၂၀၀၉ ) ရက်နေ့ B.O.T အစည်းအဝေး ကျင်းပပြီးနောက် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကမ္ပဏီများမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ(နှစ်) | (၁)ရက်လျှင်သွားသည့်ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ပြည်–တောင်ကုတ် | နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီ | ၁.၈၈ | ၂၄.၆ | ၅၃၉ | ၁.၁ | ၂၀၇၀၀.၆၄၆ |

တစ်ရက်ပျမ်းမျှယာဉ်စီးရေတွက်စစ်ပုံ

| | | | |
|---|---|---|---|
| ၁။ | နဝဒေး ဂိတ် | = | ၄၀၇ စီး |
| ၂။ | တောင်ကုတ် ဂိတ် | = | ၄၀၁ စီး |
| ၃။ | ဥသျှစ်ပင် ဂိတ် | = | ၈၀၈ စီး |
| | စုစုပေါင်း | | ၁၆၁၆ စီး |

တစ်ရက်ပျမ်းမျှ= ၁၆၁၆/၃ ၅၃၉ စီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**

ရုံးအမှတ် (၁၁)၊ နေပြည်တော်

ဖုန်း - ၀၆၇ - ၃၈၀၀၇၂၊ ဖက်(စ်) - ၀၆၇ - ၄၀၇၀၇၃

အီးမေးလ် - PW Const @ mpt mail-net.mm

---

စာအမှတ် - လစမ/B.O.T/ကြိုတင်/၂၀၁၀-၂၀၁၁/၁၁၉

ရက် စွဲ - ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၃ ) ရက်

အကြောင်းအရာ။ B.O.T. စနစ်ဖြင့် လမ်း၊ တံတားလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်ငန်းကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးခြင်း။

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသည် **နေလသစ္စာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** အား ပြည် - တောင်ကုတ်လမ်းအပိုင်း ( ၁၀၀/၁ ) မိုင် ကို B.O.T. စနစ်ဖြင့် စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် ( ၁၀ - ၂ - ၂၀၁၀ ) နေ့တွင် ကျင်းပပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် ( [illegible]/၂၀၁၀ ) မှ သတ်မှတ်ပေးသည့် လုပ်ငန်းကြိုတင် ဆောင်ရွက်ခွင့် မူဝါဒ ( ၂၀ ) ချက်နှင့် ပြည့်စုံ၍ [illegible]ဘာတူလက်မှတ်ရေးထိုးပြီးဖြစ်သည့်အတွက် လုပ်ငန်းကို ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုလိုက်သည်။

၂။ အထက်ဖော်ပြပါ ကုမ္ပဏီသည် ကြိုတင်ခွင့်ပြုမိန့် ရရှိပြီး ( ၇ ) ရက်အတွင်း လုပ်ငန်းခွင်သို့ စတင်ဝင်ရောက်၍ လမ်း၊ တံတား အသုံးပြုခကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ သတ်မှတ်နှုန်းထားအတိုင်း ကောက်ခံရန်၊ ( ၂ ) ပတ် အတွင်း ကုမ္ပဏီဆိုင်းဘုတ်တပ်ဆင်ရန်နှင့် ( ၃ ) လအတွင်း B.O.T. အဆိုပြုလွှာ အပြည့်အစုံနှင့် တင်ပြ၍ လျှောက်ထားရမည်။

(ခင်မောင်ဆယ်)

ဦးဆောင်ညွှန်ကြားရေးမှူး

နေလသစ္စာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

မိတ္တူကို - အမှတ် (      ) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန

- ---------------- ပြည်နယ်/တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ -------------မြို့

- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန

- ဦးဆောင်ညွှန်ကြားရေးမှူး (ရုံး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- ဒု-ဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အင်ဂျင်နီယာချုပ် (လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အထွေထွေမန်နေဂျာ (ဘဏ္ဍာရေး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အထွေထွေမန်နေဂျာ (ထုတ်လုပ်ရေး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- ဒု-အင်ဂျင်နီယာချုပ် (လမ်း)၊ လမ်းဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)

- အင်ဂျင်နီယာမှူးကြီး၊ --------------------------------၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
--------------------- မြို့။ **[ B.O.T. လုပ်ငန်း စတင်ဝင်ရောက်လုပ်ကိုင်သည့် အခြေအနေကို ရုံးချုပ်သို့ အချိန်နှင့် တစ်ပြေးညီ တင်ပြရန် ၊ လမ်း၊ တံတားလုပ်ငန်းခွင်သို့ ဝင်ရောက်စစ်ဆေး၍ လိုအပ်သည်များ ညွှန်ကြားပေးရန် ၊ စနစ်တကျ မှတ်တမ်းတင်ထားရန်နှင့် ပူးပေါင်း ကူညီဆောင်ရွက်ပေးရန် အကြောင်းကြားပါသည် ။ ]**

- ရုံးလက်ခံ

- မျှော

## B.O.T. စနစ်ဖြင့် လမ်းအသုံးပြုခ တောက်ခံလိုသည့် နေလသစွာဆောက်လုပ်ရေးကုမ္ပဏီလီမိတတ်၏ လျှောက်လွှာ

| စဉ် | ပုံးတွဲဖော်ပြရမည့်အချက်များ | ပုံးတွဲဖော်ပြချက်များ |
|---|---|---|
| ၁။ | က.စ.ထ မှူး၏ ထောက်ခံချက် ပါရှိရမည်။ | ပုံးတွဲဖော်ပြထားပါသည်။ |
| ၂။ | တိုင်းမှူး၏ ထောက်ခံချက် ပါရှိရမည်။ | ပုံးတွဲဖော်ပြထားပါသည်။ |
| ၃။ | လုပ်ငန်းပိုင်းနှင့် ငွေရေး ကြေးရေး အထောက်အထားများ ဖော်ပြရမည်။ | |
| | (က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် | ၁၁၈၀/ ၂၀၀၉-၂၀၁၀ |
| | (ခ) ဒါရိုက်တာများစာရင်း | မန်းနေဂျင်းဒါရိုက်တာ (၁) ဦး၊ ဒါရိုက်တာ (၄) ဦး |
| | (ဂ) အစုရှယ်ယာများစာရင်း | မန်းနေဂျင်းဒါရိုက်တာ (၁) ဦး၊ ဒါရိုက်တာ (၄) ဦး |
| | (ဃ) ဘဏ်စုဆောင်းငွေ | မရှိပါ။ |
| | (င) မရွှေ့မပြောင်းနိုင်သော ပစ္စည်းပိုင်ဆိုင်မှုနှင့် တန်ဖိုး | ကျပ် (၁၆၂၀) သန်း |
| | (စ) ဆောင်ရွက်လျက်ရှိသော အခြား စီးပွားရေးလုပ်ငန်းများ | တောင်ကုတ်မြို့ရှိ ပြုတ်ဆန်စက် (၁) ခု၊ တောင်တဲခွန်သင်္ဘောလိုင်းပြေးဆွဲခြင်း၊ ပြည်ပနိုင်ငံများသို့ ဆန် တင်ပို့ခြင်း။ |
| ၄။ | ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ ပါရှိရမည်။ | အဆိုပြုလွှာတွင် ပုံးတွဲဖော်ပြထားပါသည်။ |
| ၅။ | လမ်း၊ တံတားလုပ်ငန်းနှင့် ဆက်စပ်သော လက်ရှိ စက်ယာဉ် ယန္တရားစာရင်း တင်ပြရမည်။ | မြေသယ်ယာဉ် ၁၂ ဘီးကား (၂) စီး၊ ၁၀ ဘီးကား (၄) စီး၊ Tipper (၁) စီး |
| ၆။ | ကျောက်၊ သဲ၊ ကတ္တရာ၊ ဘိလပ်မြေ၊ သံချောင်း စုဆောင်းထားရှိမှုအခြေအနေ တင်ပြရမည်။ | ကတ္တရာ ဘိလပ်မြေတို့အား အကြွေးစနစ်ဖြင့် တင်သွင်းပေးပို့မည့် ပြည်ပကုမ္ပဏီ အသင့်ရှိပါသည်။ (မစုဆောင်းရသေးပါ) |
| ၇။ | လုပ်ငန်းလည်ပတ်နိုင်ရေးအတွက် လက်ရှိ လမ်း၊ တံတား အင်ဂျင်နီယာအင်အား၊ ကျွမ်းကျင်သူ ဝန်ထမ်းနှင့် လုပ်သားအင်အား စုဆောင်းထားရှိမှု အခြေအနေ တင်ပြရမည်။ | မရှိသေးပါ။ |
| ၈။ | B.O.T. စနစ်ဖြင့် လမ်းအသုံးပြုခ ကောက်ခံလိုသည့် လမ်းအမည်နှင့် ( မိုင် ---- မှ ---- မိုင် အထိ ) တင်ပြရမည်။ | ပြည်-တောင်ကုတ် ၁၀၀/၀ မိုင်၊ တောင်ကုတ်-ကျောက်ဖြူ ၁၁၀/၀ မိုင် } ၂၁၀/၀ မိုင် |
| ၉။ | လမ်း၊ တံတား အသုံးပြုခ ကောက်ခံမည့် စခန်းများ နေရာ မြေပုံနှင့် ဖော်ပြရမည်။ | မြေပုံနှင့်တကွ ပုံးတွဲဖော်ပြထားပါသည်။ |
| ၁၀။ | လမ်း၊ တံတားအသုံးပြုခ ကောက်ခံမည့်နှုန်းထားများအား ဌာနမှ သတ်မှတ်ပေးထားသောနှုန်းအတိုင်းဆောင်ရွက်သွားရမည်။ | ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သတ်မှတ်ပေးသည့် နှုန်းထားအတိုင်းကောက်ခံပါမည်။ |
| ၁၁။ | တုပ်ချုပ်ရေးမှုးရုံး ဖွင့်လှစ်မည့်နေရာ ဖော်ပြရမည်။ | မြေပုံနှင့်တကွ ပုံးတွဲဖော်ပြထားပါသည်။ |
| ၁၂။ | ဆောက်လုပ်ရေးဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ ခွင့်ပြုချက်ရရှိပြီး (၇) ရက်အတွင်း လုပ်ငန်းခွင်သို့ စတင် ဝင်ရောက်ရမည်၊ (၂) ပါတ်အတွင်း ကုမ္ပဏီဆိုင်းဘုတ်တပ်ဆင်ရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၃။ | ဆောက်လုပ်ရေးဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ ခွင့်ပြုချက်ရရှိပြီး (၃) လအတွင်း B.O.T. အဆိုပြုလွှာဖြင့် တင်ပြလျှောက်ထားရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |

**B.O.T. စနစ်ဖြင့် လမ်းအသုံးပြုခ ကောက်ခံလိုသည့်**

**နေလသစွာဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ လျှောက်လွှာ**

| စဉ် | ပူးတွဲဖော်ပြရမည့်အချက်များ | ပူးတွဲဖော်ပြချက်များ |
|---|---|---|
| ၁၄။ | B.O.T. ယူပြီး လုပ်ငန်းဆောင်ရွက်မှု အားနည်းမှုရှိပါက လမ်းကို ဘုတ်အဖွဲ့နှင့် စစ်ဆေးပြီး သတ်မှတ်ရက်အတွင်း ကောင်းအောင် လုပ်ရန်နှင့် ကောင်းအောင် မလုပ်နိုင်ပါက လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပြီး လမ်းကို ပြန်လည်သိမ်းခြင်းနှင့် အသစ် ကုမ္ပဏီအား ချပေးခြင်းတို့ကို ဆောင်ရွက်သွားမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၅။ | တာဝန်ယူထားသောလမ်းပိုင်သည် ရှည်နေပြီး လုပ်ငန်းလုပ်ရာတွင် မနိုင်မနင်း အခက်အခဲဖြစ်ပါက တာဝန်ယူထားသောလမ်းကို ထပ်မံပိုင်းပြီး အခြား ကုမ္ပဏီအား လုပ်ပိုင်ခွင့် ပေးရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၆။ | လအလိုက် လုပ်ငန်းဆောင်ရွက်မည့် စီမံချက်ကို တင်ပြရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၇။ | လအလိုက် လုပ်ငန်းစီမံချက်အပေါ် လုပ်ငန်းပြီးစီးမှုကို တင်ပြရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၈။ | လအလိုက် ပစ္စည်း စုဆောင်းမှု၊ သုံးစွဲမှုနှင့် လက်ကျန်ကို ဖော်ပြရမည်။ [ ကျောက်အရွယ်အစားအလိုက်၊ သဲ၊ ကတ္တရာ၊ ဘိလပ်မြေ၊ သံချောင်း ] | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၁၉။ | လအလိုက် စက်ယာဥ်ယန္တရား ရောက်ရှိ သုံးစွဲမှုကို တင်ပြရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |
| ၂၀။ | ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ အထူးတာဝန်ပေးအပ်ထားသည့် အင်ဂျင်နီယာချုပ်များနှင့် B.O.T. လမ်း တည်ရှိရာ ပြည်နယ်/တိုင်း ရှိ အင်ဂျင်နီယာမှူးကြီးများ၏ လုပ်ငန်းခွင် စစ်ဆေးခြင်းကို လက်ခံရမည်။ အခက်အခဲကို တင်ပြရမည်။ | လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်။ |

KYAUK TAUNG
MANAGING DIRECTOR
...AR CONSTRUCTION GROUP CO., LTD.

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်။

စာအမှတ် ။ ။ ၁/ လမ်း / ၆ /၁၀
နေ့စွဲ ။ ။၂၀၁၀ခုနှစ်၊ ဇွန်လ၊( ၃၀ )ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များခွင့်ပြုပေးပါရန် တင်ပြလျှောက်ထားခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ Nay La Thitsar Construction Group Company Limited အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ် ရေးလုပ်ငန်းပိုင်၊ ပြည်–တောင်ကုတ်လမ်း၏ ပြည်–တောင်ကုတ်လမ်းအပိုင်း ၁၀၂ မိုင် ၊ စုစုပေါင်း (၁၀၂မိုင်) လမ်းမကြီးအား အဆင့်တိုးမြှင့်တည်ဆောက်၍ လမ်းအသုံး ပြုခကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ဆောင်ရွက်ရန်အတွက် ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့် ရရှိရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ အဆိုပြုလွှာကိုခွင့်ပြုပေးနိုင်ပါရန်လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO., LTD.

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8531 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

NAY LA THITSAR CONSTRUCTION GROUP CO.,LTD.
No.
Date.

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်။

စာအမှတ်၊ ၂/လမ်း /၆/ ၂၀၁၀
နေ့စွဲ၊ ၂၀၁၀ခုနှစ်၊ ဇွန် လ (၃၀)ရက်

**အကြောင်းအရာ။ ။ပြည်–တောင်ကုတ်လမ်းပိုင်းအား အဆင့်တိုးမြှင့် တည်ဆောက်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ခွင့်ပြုမိန့် လျှောက်ထားခြင်းကိစ္စ။**

၁။ ကျွန်တော်တို့၏ NAY LA THITSAR CONSTRUCTION GROUP COMPANY LIMITED သည် ပြည်–တောင်ကုတ်လမ်း (၁၀၂မိုင်) ကိုကုမ္ပဏီ၏ကုန်ကျငွေဖြင့် အဆင့်တိုးမြှင့် တည်ဆောက်ပေးရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။

၂။ စီမံကိန်းနယ်နိမိတ်ကို ကျေးရွာများအတွင်းဖြတ်သန်းသည့်နေရာများမှအပ ပေ(၁၀၀) အကျယ် သတ်မှတ်၍ မြို့များအတွင်းတွင် မြို့နယ်စည်ပင်သာယာရေးလမ်းအဖွဲ့၏ လမ်းနယ်နမိတ်အတိုင်းဖြစ်ပါသည်။

၃။ အထက်ပါစီမံကိန်းအတွက် ကျွန်တော်များကုမ္ပဏီမှ ပြည်တွင်းသုံးငွေ ကျပ်သန်းပေါင်း ၂၀,၆၄၄.၆၅၉ နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ ၉,၃၃၁,၃၀၈ အကုန်အကျခံ ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပါသည်။

၄။ လမ်းတံတားဖြတ်သန်းခနှုန်းများ ဖွင့်လှစ်ကောက်ခံမည့်ဂိတ်များ၊ လမ်းတံတားဖြတ်သန်းခ ကောက်ခံရငွေမှ နိုင်ငံတော်သို့ပေးသွင်းရမည့်နှုန်းများစသည်တို့ကို ပဋိညာဉ်စာချုပ်တွင်ထည့်သွင်းဖော်ပြကာ အဆင့်ဆင့်သောအာဏာပိုင်အဖွဲ့အစည်းများ၏ ခွင့်ပြုချက်များရယူသွားမည်ဖြစ်ပါကြောင်းဖော်ပြအပ်ပါသည်။

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြရန် အဆိုပြုချက်ကိုပြုစုလျက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခွင့်ပြုနိုင်ပါရန် လေးစားစွာတင်ပြအပ်ပါသည်။

NAY LA THITSAR CONSTRUCTION GROUP CO.,LTD.
No.
Date.

မိတ္တူကို-

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- အထွေထွေမန်နေဂျာ၊ ခွန်-ထိန်း / ကျောက်ထုတ်ဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- ဒုအင်ဂျင်နီယာချုပ် (လမ်း)၊ လမ်းဦးစီး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
- ရုံးလက်ခံ။

လေးစားစွာဖြင့်

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO.,LTD.

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868
e-mail:naylats@mptmail.com.mm

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

NAY LA THITSAR CONSTRUCTION GROUP CO.,LTD.
No.
Date.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်။

စာအမှတ်၊ -၃ /လမ်း /၆ /၂၀၁၀
နေ့စွဲ၊ ၂၀၁၀ခုနှစ်၊ ဇွန်လ၊ ( ၃၀ )ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များပေးပို့ခြင်း။

အထက်အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ NAY LA THITSAR CONSTRUCTION GROUP COMPANY LIMITED အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင် ပြည်–တောင်ကုတ်လမ်း (၁၀၂မိုင်) လမ်းမကြီးအား အဆင့်မြှင့်တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ဆောင်ရွက်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၁။ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် နိုင်ငံတော်အစိုးရမှ လမ်းတံတားတည်ဆောက်ပြုပြင်ဖောက်လုပ်ခြင်းနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ဤလုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO., LTD.



**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂) ၊နေပြည်တော်။

စာအမှတ်၊ ၄ /လမ်း /၆ /၂၀၁၀
နေ့စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန်လ (၃၀) ရက်

အကြောင်းအရာ။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြုပ်နှံမှု ပုဒ်မ၁၂ နှင့်၁၃တို့ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ NAY LA THITSAR CONSTRUCTION GROUP COMPANY LIMITED အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင် ပြည်–တောင်ကုတ်လမ်း (၁၀၂ မိုင်) လမ်းမကြီးအား အဆင့်တိုးမြှင့်ဖောက်လုပ်တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်ဆောင်ရွက် ရန်အတွက်ရည်ရွယ်၍ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံ ရင်းနှီးမြုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည် ပြည်–တောင်ကုတ်လမ်း (၁၀၂ မိုင်) အားအဆင့်တိုးမြှင့်တည်ဆောက်ခြင်းအတွက် ဝယ်ယူအသုံးပြုရန်လိုအပ်မည့် အမေရိကန်ဒေါ်လာ (၉,၃၃၁,၃၀၈) တန်ဖိုး ရှိသော စက်ကိရိယာပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ လက်ငင်းငွေချေစနစ် (Telegraph Transfer or Letter of Credit System )ဖြင့် အလီလီဝယ်ယူအသုံးပြုသွားပါမည်။

၃။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေ စုစုပေါင်း (၂၀,၇၀၀.၆၄၆) သန်းကို မြန်မာငွေကျပ်၊ စက်ပစ္စည်းများ ကုန်ကြမ်းပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြုပ်နှံကြမည်ဖြစ်ပါ သည်။ လမ်းတည်ဆောက်ပြုပြင်၍ နှစ်ပေါင်း(၄၀)အထိ ကောက်ခံရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ ကျွန်တော်တို့ ကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားတင်ပြခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868

**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# NAY LA THITSAR
## CONSTRUCTION GROUP CO.,LTD.

NAY LA THITSAR

၅။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း အထောက်အထားများကို [illegible] အပ်ပါသည်။

NAY LA THITSAR CONSTRUCTION GROUP CO.,LTD.
No.________
Date________

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)၊
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊
(၃) မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊
(၅) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုများ စသည်တို့ ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်မှ လက်ခံခွင့်ပြုပါရန် နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့် ခွင့်ပြုမိန့် (Permit) ထုတ်ပေးပါရန် လေးစားစွာလျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

KYAUK TAUNG
CHAIRMAN
NAY LA THITSAR CONSTRUCTION GROUP CO., LTD.

**MAIN OFFICE**
No (34) Third Floor, Boyar Nyunt Street,
Yaw Min Gyi Quarter, Dagon Township,
Yangon. Ph:951-387776, 380096, 570543, 704732
Mobile: 09 51 76267, 09 51 19925
Fax: 951-563868



**BRANCH OFFICE**
No(343) U Oka Ta Ma Street,
Gutar Quarter,
Taung Goke, Rakhing State.
Ph: 9543-60056, 60327
Mobile: 09 8530 272

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
# (ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဈ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊နေပြည်တော်။

ရက်စွဲ။ ၂၀၁၀ ခုနှစ် ဇွန်လ (၃၀ )ရက်

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍လျှောက်ထားအပ် ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးကျောက်တောင်(ခ)ဦးဉာဏ်ထွန်း |
| (ခ) | အဘအမည် | - | ဦးသာထင် |
| (ဂ) | နိုင်ငံသားမှတ်ပုံတင်အမှတ် | - | ၁၁/တကန (နိုင်) ၉၆၁၃၆၄ |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ် (၁၃၁)၊ ညောင်တုန်းလမ်း၊ ဂူတာရပ်ကွက်၊ တောင်ကုတ်မြို့။ |
| (င) | လူမျိုး/ဘာသာ | - | ဗမာ/ဗုဒ္ဓ |
| (စ) | အဖွဲ့အစည်းအမည် | - | နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | လမ်းဖောက်လုပ်၍အသုံးပြုခကောက်ခံခြင်းလုပ်ငန်း၊ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ်(၃၄)၊ တတိယထပ်၊ ဗိုလ်ရာညွှန့်လမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | |
| (ခ) | အဘအမည် | - | |
| (ဂ) | နိုင်ငံသားအမျိုးသားမှတ်ပုံတင်အမှတ် | - | |
| (ဃ) | နေရပ်လိပ်စာ | - | |
| (င) | လူမျိုး/ဘာသာ | - | |
| (စ) | အဖွဲ့အစည်းအမည် | - | နေလသစ္စာကုမ္ပဏီလီမိတက်၊ရတနာတောင်ကုတ်ဆန်စပါးဖွံ့ဖြိုးတိုးတက်ရေးကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | ကုမ္ပဏီလီမိတက် |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ်(၃၄)၊ တတိယထပ်၊ ဗိုလ်ရာညွှန့်လမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

အမှတ် (၃၄၇)၊ ဦးဥတ္တမလမ်း၊ ဂူတာရပ်ကွက် ၊
တောင်ကုတ်မြို့။

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -
(ခ) ဝန်ဆောင်မှုလုပ်ငန်း - ပြည်-တောင်ကုတ်လမ်း အဆင့်မြှင့်တိုးချဲ့တည်ဆောက်၍၊ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက် ကုမ္ပဏီ (နောက်ဆက်တွဲဇယား - ၁)
(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -
(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

(က) တစ်ဦးတည်းပိုင် -
(ခ) အစုစပ်လုပ်ငန်း -
(ဂ) လီမိတက် ကုမ္ပဏီ - နေလသစ္စာဆောက်လုပ်ရေးအုပ်စုကုမ္ပဏီလီမိတက်
(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့် ပမာဏ -
(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား -
(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ သမဝါယမအသင်း/လီမိတက် ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅၀၀,၀၀၀,၀၀၀ (ကျပ် သန်းငါးရာတိတိ)၊

(ခ) အစုရှယ်ယာအမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀,၀၀၀ (ကျပ်တစ်သိန်းတိတိ) အစုရှယ်ယာ ၅၁၀ (ငါးရာတစ်ဆယ်တိတိ)၊

(ဂ) အစုရှယ်ယာများထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၂၀,၇၀၁,၇၂၆,၈၄၈ (ကျပ်သန်းနှစ်သောင်း ခုနှစ်ရာတစ်ဒသမခုနှစ်နှစ်ခြောက်ရှစ်လေးရှစ်တိတိ)

ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက Authorized Capital တိုးမြှင့်ခြင်းကိုဆောင်ရွက်ပေးပါမည်ဟုဝန်ခံကတိပြုပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်များ -

| (က) မတည်ရင်းနှီးငွေပမာဏ (ယခုအဆိုပြုလုပ်ငန်း) | ကျပ် | US$ | ကျပ်ထောင်ပေါင်း |
|---|---|---|---|
| (၁) ငွေပမာဏ | ၃,၇၆၂,၀၀၀,၀၀၀ | - | ၃,၇၆၂,၀၀၀ |
| (၂) လမ်းဖောက်ကုန်ကျစရိတ် နောက်ဆက်တွဲ (၁၁) | ၁၆,၂၇၇,၆၅၉,၀၀၀ | - | ၁၆,၂၇၇,၆၅၉ |
| (၃) ရေမြောင်းဆောက်လုပ်ကုန်ကျစရိတ် နောက်ဆက်တွဲ (၁၂) | ၅၇၅,၀၀၀,၀၀၀ | - | ၅၇၅,၀၀၀ |
| (၄) နိုင်ငံတော်မှချေးငွေ | - | - | - |
| (၅) ကုန်ကြမ်းပစ္စည်းများ (နောက်ဆက်တွဲ-၂ (ခ)) | - | ၆,၉၆၆,၃၀၈ | ၄၁,၇၉၇ |
| (၆) အဆောက်အဦး (နောက်ဆက်တွဲ - ၁၀) | ၃၀,၀၀၀,၀၀၀ | - | ၃၀,၀၀၀ |
| (၇) မြေ | - | - | - |
| (၈) စက်ပစ္စည်းကိရိယာများ (နောက်ဆက်တွဲဇယား-၂ (က)) | ၂,၃၆၅,၀၀၀ | ၁၄,၁၉၀ | |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၂၀,၆၄၄,၆၅၉,၀၀၀ | ၉,၃၃၁,၃၀၈ | ၂၀,၇၀၀,၆၄၆ |

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် | | |
| | (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး (နောက်ဆက်တွဲဇယား-၂ (က)) | ၁၄,၁၉၀,၀၀၀ | ၂,၃၆၅,၀၀၀ |
| | (၂) ကုန်ကြမ်းပစ္စည်းများ (နောက်ဆက်တွဲဇယား-၂ (ခ)) | ၄၁,၇၉၇,၈၄၈ | ၆,၉၆၆,၃၀၈ |
| | | ၅၅,၉၈၇,၈၄၈ | ၉,၃၃၁,၃၀၈ |

(ဂ) တည်ဆောက်မှုကာလ - လမ်း - (၁၆) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၂) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့် နေ့မှစတင် ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်များ -

(က) လုပ်ငန်းအမျိုးအစား - ပြည်-တောင်ကုတ်လမ်း အဆင့်မြှင့်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ပြည်-တောင်ကုတ်လမ်းပိုင်း

(ဂ) ဆောင်ရွက်မည့်ပုံ နည်းစနစ် - လမ်းအဆင့်မြှင့်တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းစနစ် နောက်ဆက်တွဲဇယား ( ၁၀ )

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

၁။ ဒီဇယ်ဆီ - ဂါလန် (၂. ၅ သိန်း)

၂။ ဓါတ်ဆီ - ဂါလန် (၁ သိန်း)

၃။ စက်ဆီ၊ ချောဆီ - ဂါလန် (၀. ၈ သိန်း)

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အား လိုအပ်ချက် -

၁။ လျှပ်စစ်ဓာတ်အား - ၁၀ × ၂၀ KVA

၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား -

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား -

၄။ သဘာဝဓာတ်ငွေ့သုံးဓာတ်အား -

၅။ ပေးပို့သည့် အခြားအား (ရေအား / လေအားစသည်များ) -

(စ) နှစ်စဉ်ရေလိုအပ်ချက် -
၁။ တစ်နေ့ရေလိုအပ်ချက် - ဂါလန် (၄၅၀,၀၀၀)
၂။ တစ်နှစ်ရေလိုအပ်ချက် - ဂါလန် (၁၆၂)သန်း

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း / ကုန်ကြမ်းလိုအပ်ချက် -

(ဇ) အဆောက်အဦးလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်း - လိုအပ်ချက် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်လမ်းနယ် (၁၀၂ မိုင် )

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု - (နောက်ဆက်တွဲဇယား - ၃)

(ဋ) ရောင်းချမည့်နည်းစနစ် - လမ်းအသုံးပြုခကို ကျပ်ငွေဖြင့် ကောက်ခံခြင်း

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှု နှင့် စပ်လျဉ်းသောအချက်များ -

(က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ - (နောက်ဆက်တွဲဇယား - ၅)
(ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ - (နောက်ဆက်တွဲဇယား - ၂)
(ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ -
(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုး -
(င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့်ကုန်ပစ္စည်း ဝန်ဆောင်မှုတန်ဖိုး (နောက်ဆက်တွဲဇယား - ၃)

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းစာရင်း -

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ - (နောက်ဆက်တွဲဇယား - ၉)
(ခ) နိုင်ငံခြားမှ လိုအပ်သည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ

(က) နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲဇယား - ၄)
(ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲဇယား - ၄)
(ဂ) နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲဇယား - ၄)

